မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မ.န.သ.–၀၁၇/၉၆ ၁၉၉၆ ခုနှစ်၊ မတ် လ ၆ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး အေး ဇော်ဝင်း

(ခ) အဘအမည် ဦး ဇော်မြင့်သိန်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ယ/အသဂ(နိုင်)-၀၀၁၅၈၈

(ဃ) နေရပ်လိပ်စာ အမှတ် (၁၉)၊ ရွှေမခလမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း မေဒလမြိုင်ဟိုး (လ်) ဒင်း (စ်) လီမိတက်

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ငါး၊ ပုဇွန်၊ ရေချိုနှင့် ပင်လယ်ထွက်ပစ္စည်း များ ဝယ်ယူထုတ်လုပ်ခြင်း ။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) သံလွင်ရွာ၊ သံလွင်ဥယျာဉ်လမ်း မေဒလမြိုင်မြို့နယ်

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၁၃.၈၈ သန်း(ကျပ်တစ်ဆယ့်သုံးသန်းရှစ်သိန်းရှစ်သောင်းတိတိ)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမိန့်ကြော်ငြာစာ အမှတ်၊ ၁ / ၉၆
ရန်ကုန်မြို့၊ ၁၃၅၇ ခုနှစ်၊ တပေါင်းလပြည့်ကျော် ၃ ရက်၊
( ၁၉၉၆ ခုနှစ် ၊ မတ်လ ၆ ရက် )

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း ( ၅ )၊ ပုဒ်မ-၁၀အရ အပ်နှင်းထားသောလုပ်ပိုင်ခွင့်များကိုကျင့်သုံးလျက် မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့ပိုင်မြေနေရာကိုငှားရမ်း၍ ရေငန်ပုစွန်ပြုပြင်ထုတ်လုပ်သည့်စက်ရုံတည်ထောင်ပြီး ၊ ကမ္ဘာ့ဈေးကွက်အဆင့်အတန်းဝင်ငါး ၊ ပုစွန်များဝယ်ယူထုတ်လုပ်ခြင်းလုပ်ငန်းကိုဆောင်ရွက်နိုင်ရန် မော်လမြိုင်ဟိုး ( လ် ) ဒင်း ( စ် ) လီမိတက်အတွက်ခွင့်ပြုမိန့်အမှတ်၊ မနသ- ၀၁၀/ ၉၆ ကိုထုတ်ပေးလိုက်သည်။

၂။ မော်လမြိုင်ဟိုး ( လ် ) ဒင်း ( စ် ) လီမိတက်အနေဖြင့် ဤခွင့်ပြုမိန့်အရ ကမ္ဘာ့ဈေးကွက်အဆင့်အတန်းဝင်ငါး ၊ ပုစွန်များဝယ်ယူထုတ်လုပ်ခြင်းလုပ်ငန်းများကိုဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း ( ၇ )၊ ပုဒ်မ-၁၂အရ၊ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင် တစ်ဆက်တည်း ( ၃ ) နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ-၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် ဤအမိန့်ကြော်ငြာစာကိုထုတ်ပြန်လိုက်သည်။

( က ) ဥပဒေပုဒ်မ-၁၃ ( က ) အရ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သောနိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကိုဖော်ပြလျက် ဤကော်မရှင်သို့လျှောက်ထားရမည်။

( ခ ) ဥပဒေပုဒ်မ-၁၃ ( ခ ) အရ လုပ်ငန်းမှနိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေအပေါ်တွင် ( ၅၀ ) ရာခိုင်နှုန်းဝင်ငွေခွန်သက်သာခွင့်ကိုခံစားနိုင်ရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီးသည့်အခါလုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကိုဖော်ပြလျက်ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ-၁၃(ဂ)အရ ကုန်ထုတ်လုပ်မှုကြောင့်ပြည်တွင်းပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီဝင်ငွေခွန် သက်သာခွင့်ကိုလုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှု အခြေအနေကိုဖော်ပြလျက်၍ ကော်မရှင်သို့ကင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ-၁၃(စ)အရ လုပ်ငန်းမှရရှိသည့်အမြတ်ငွေကိုသီးသန့်ရန်ပုံငွေထား၍တစ်နှစ်အတွင်း လုပ်ငန်း၌ပြန်လည်ရင်းနှီးမြှုပ်နှံလျှင်ထိုအမြတ်ငွေအပေါ်တွင်ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ်သက်သာခွင့်ကိုဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါလုပ်ငန်းအမှန်တကယ်အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ-၁၃(ဆ)အရ လုပ်ငန်းသုံးမတည်ပစ္စည်းများအပေါ်တန်ဖိုးလျော့ငွေကိုသတ်မှတ်သည့်နှုန်းအတိုင်းနှစ်တိုတိုနှင့် မူလတန်ဖိုးပြည့်မီသည်အထိ အမြတ်ငွေမှနှုတ်ပယ်ခွင့်ကို ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ-၁၃(ဇ)အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့်အမှန်တကယ်လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာအစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကင်းလွတ်ခွင့်အတွက်ခွင့်ပြုမိန့်ရရှိပြီးသည့်နောက်မှတင်သွင်းသည့်လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်သာကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ-၁၃(ဈ)အရ ကနဦးရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက်ကုန်ထုတ်လုပ်ရန်တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကိုကင်းလွတ်ခွင့်ပြုသည်။

(ဇ) ဥပဒေပုဒ်မ-၁၃(ည)အရ ထုတ်လုပ်သည့်ပစ္စည်းများ ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ်ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ-၁၃(ဇ)အရ ပြည်ပမှတင်သွင်းသည့်စက်ပစ္စည်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေရရှိပုံနည်းလမ်း ( Source Payments for Imports )ဥပမာ-ပြည်ပတင်ပို့မှုမှဝင်ငွေ၊ ဆောင်ရွက်မှုမှရရှိသည့်ဝင်ငွေ၊ ပြည်ပချေးငွေ( Loan and Credits ) ကုန်ပစ္စည်းပြန်လည်ဝယ်ယူသည့်စနစ်( Buy-backs )ကိုဖော်ပြရန်။

(ခ) တင်သွင်းမည့်ပစ္စည်းအမျိုးအစားစာရင်း ( Invoice and Packing List )များကိုနိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးကော်မတီသို့တင်ပြ၍ ထောက်ခံချက်ရယူရန်။

၄။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် မော်လမြိုင်မြို့နယ်၊ သံလွင်လမ်း ရှိ မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့ပိုင်မြေ( ၆၀၇ )စတုရန်းမီတာနှင့် မြေပေါ်ရှိဈေးဆိုင်ခန်းလွှားအဆောက်အဦ( ၄ )လုံးအားကနဦးနှစ်၃၀နှင့် နောက်ထပ်၅နှစ်၂ကြိမ် ငှားရမ်းမှုကာလကို မြေငှားသဘောတူစာချုပ်လက်မှတ် ရေးထိုးသောနေ့မှစတင်ရန်ဖြစ်သည်။ မြေအသုံးချခွင့်အတွက်ပေးချေငွေ ( Land Use Premium )အဖြစ်ကျပ် ၂၅၉၀၀၀၀(ကျပ်နှစ်ဆယ့်ငါးသိန်းကိုးသောင်း) ကိုမြေငှားစာချုပ်လက်မှတ်ရေးထိုးပြီး ( ၃၀ )ရက်အတွင်း အငှားချထားခြင်းခံ ရသူကအငှားချထားသူအား ပေးချေရမည်။ လစဉ်ငှားရမ်းခအဖြစ်ကျပ် ၁၀၀၀၀ (ကျပ်တစ်သောင်းတိတိ)ကိုအငှားချထားသူမှ တောင်းခံနေရန်မလိုဘဲအငှားချထား ခြင်းခံရသူက လစဉ်လဆန်း ( ၇ )ရက်နေ့မတိုင်မီပေးဆောင်ရမည်။ မြေငှား ရမ်းခမှာပထမငါးနှစ်ကာလအတွက် မြန်မာကျပ်ငွေ ၆၀၀၀၀၀(ကျပ်ငွေခြောက် သိန်းတိတိ)ဖြစ်သည်။

၅။ အငှားချထားသူနှင့်အငှားချထားခြင်းခံရသူတို့သည် အငှား ချထားသောမြေနေရာနှင့်အဆောက်အဦများအတွက်စာချုပ်စတင်အတည်ဖြစ်သည့် နေ့မှစ၍ ( ၅ )နှစ်လျှင်တစ်ကြိမ်ငှားရမ်းခနှုန်းထားများကိုပြီးခဲ့သော( ၅ )နှစ် တာကာလ၏ငှားရမ်းခနှုန်းများထက် ၁၅ ရာခိုင်နှုန်းထက်မပိုစေဘဲတိုးမြှင့် ခြင်းကိုပြုလုပ်ရန်အတွက်ပြန်လည်သုံးသပ်ပြင်ဆင်သုံးသပ်ပိုင်ခွင့်ရှိသည်။

၆။ အဆိုပါ မြေငှားသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ်မိတ္တူ (၅) စောင်ကို ကော်မရှင်သို့ မပျက်မကွက်အမြန်တင်ပြရမည်။

၇။ ထိုသို့ မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူနှစ်ဦးနှစ်ဖက်စလုံးတို့သည် နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာလိုက်နာဆောင်ရွက်ရမည်။

၈။ မော်လမြိုင်ဟိုး(လ်)ဒင်း(စ်)လီမိတက်မှ နိုင်ငံခြားသားကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ အခန်း (၉)၊ အပိုဒ်-၃၃ သတ်မှတ်ချက်များနှင့်အညီ ကော်မရှင်သို့သီးခြားတင်ပြလျှောက်ထားရမည်။

၉။ မော်လမြိုင်ဟိုး(လ်)ဒင်း(စ်)လီမိတက်သည် ၎င်းခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင်လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှုစသည်များ မဖြစ်ပေါ်စေရန်အတွက်လိုအပ်သည့်ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းသိမ်းကာကွယ်ရေး အစီအမံများကို စနစ်တကျထား၍ ဆောင်ရွက်ရမည်။

၁၀။ အဆိုပြုလုပ်ငန်းစတင်ဆောင်ရွက်သည့်နေ့ကို ဤကော်မရှင်သို့ အစီရင်ခံရမည်။

အမိန့်အရ-

[ ဗိုလ်မှူးချုပ် အေဘယ်လ် ]
အတွင်းရေးမှူး
[ ဝန်ကြီး၊ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုး
တိုးတက်မှုဝန်ကြီးဌာန ]

စာအမှတ်၊ ၇က-၁/မ-၀၀၆/၉၅ (၂၀၀၇)။
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ မတ်လ ၆ ရက်။

ဖြန့်ဝေခြင်း -

၁။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ရုံး ။

၃။ အစိုးရအဖွဲ့ရုံး ။

၄။ အမျိုးသား စီမံကိန်းနှင့်စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။

၅။ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။

၆။ ကုန်သွယ်ရေးဝန်ကြီးဌာန။

၇။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန။

၈။ နယ်စပ်ဒေသနှင့်တိုင်းရင်းသားလူမျိုးများ ဖွံ့ဖြိုးတိုးတက်ရေးနှင့် စည်ပင်သာယာရေးဝန်ကြီးဌာန။

၉။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်။

၁၀။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်၊ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်းစာရင်းအင်းနှင့်စစ်ဆေးရေးဦးစီးဌာန)

၁၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန။

၁၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန။

၁၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း ။

၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန။

၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန။

၁၆။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်း ။

၁၇။ ညွှန်ကြားရေးမှူး၊ ကုမ္ပဏီများညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန။

၁၈။ ဥက္ကဋ္ဌ၊ မွန်ပြည်နယ်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့။

၁၉။ မြို့နယ်ဦးစီးမှူး၊ မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့။

၂၀။ မော်လမြိုင်ဟိုး (လ်) ဒင်း (စ်) လိမိတက်၊ အမှတ်(၂၁၂)၊ အောက်လမ်းမကြီး၊ ရွှေတောင်ရပ်ကွက်၊ မော်လမြိုင်မြို့။

အမိန့်အရ —

( နိုင်ဒိုင် )

တွဲဖက်အတွင်းရေးမှူး ။



* လှ ၄/ ၃/ ၉၆။